**ကုမ္ပဏီအမည်** - Capital Development Ltd.

**လုပ်ငန်း** - စားသောက်ကုန်များ၊ စိုက်ပျိုးရေးအခြေခံ လယ်ယာ ထွက်ကုန်သီးနှံများအား သန့်စင် ခြင်း၊ပြုပြင်ထုတ်ပိုးခြင်း၊ရောင်းချခြင်း၊သိုလှောင်ခြင်းနှင့်ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃-၈-၂၀၁၅ | | |
| ၂ | PAT တင်ပြခြင်း | ၇-၉-၂၀၁၅ | | |
| ၃ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၈-၉-၂၀၁၅ | | |
| ၄ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၆-၉-၂၀၁၅ | ၁၃-၁၀-၂၀၁၅ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး | ၁၆-၉-၂၀၁၅ | ၆-၁၀-၂၀၁၅ | |
| ၅ | ကုမ္ပဏီ မှပြင်ဆင်ချက် | | | |
| ၆ | အဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ( /၂၀၁၅)ကြိမ် မြောက် အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | ၉၄ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Capital Development Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | စားသောက်ကုန်များ၊ စိုက်ပျိုးရေးအခြေခံ လယ်ယာထွက်ကုန်သီးနှံများ အားသန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ ရောင်းချခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း |
| တည်နေရာ | - | မြေတိုင်းရပ်ကွက်အမှတ်-၂၊ မြေကွက်အမှတ်- ၂၅+၂၅E+၂၅F၊ ၆A၊ ၆H, ၄၃၁, ၂၅A,၂၅B,၂၅C, ၂၅D,၄၁,၄,၇ ၊ မင်းနန္ဒာလမ်း၊ နွယ်အေး ရပ်ကွက်၊ ဒေါပုံမြို့နယ်၊ ဒေါပုံဂုန်နီ ကော်ဇော စက်ရုံ၊ မြန်မာ့ ဂုန်လျှော် ပစ္စည်းလုပ်ငန်း၊ ရန်ကုန်တိုင်းဒေသကြီး။ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | **ကျပ် ၉,၆၆၀.၉၉၂သန်း**(အမေရိကန်ဒေါ်လာကျပ်၂.၃၄၇ သန်းအပါအဝင်) |
| ရောင်းချမည့်စနစ် | - | ပြည်တွင်းရောင်း(၁၀၀%) |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ် နှင့် နောက်ထပ် (၁၀) နှစ် သက်တမ်းတိုးနှစ်ကြိမ် |
| အရင်းကြေကာလ | - | ၉ နှစ် |
| IRR | - | ၁၁.၇၃ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၂၉.၀၈ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၈၃၂.၅၄ သန်း | ကျပ် ၁၅၉၀.၃၃ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၄၃၂.၀၀ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၃,၆၆၉.၃၀ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ် ထက်ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၅၆၃)ဦး |
| ၈ | CSR (၁ %) | | ကျပ် ၆၁.၅၂ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၅၆၃ ဦး<br>ပြည်တွင်းလုပ်သား ( ၅၆၃ ) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၉၆၃.၂၃ သန်း | ကျပ် ၅,၇၅၄.၃၂ သန်း |
| | Cost & Benefit | ၁ : ၆ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Ltd.) မှ စားသောက်ကုန် များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာ ထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင် ထုတ်ပိုးခြင်း၊ ရောင်းချခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ<br><br>အဖွဲ့အစည်းပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက်<br>(Capital Development Ltd.)<br>- ဒေါ်မိုးမိုး(အဘ-ဦးမောင်မောင်(ခ)လီဆူစိုင်)<br>- ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- စားသောက်ကုန်များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာ ထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ ရောင်းချခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေတိုင်းရပ်ကွက်အမှတ်-၂၊ မြေကွက်အမှတ်- ၂၅+၂၅E+ ၂၅F၊ ၆A၊ ၆H, ၄၃၁, ၂၅A,၂၅B,၂၅C, ၂၅D,၄၁,၄,၇ ၊ မင်းနန္ဒာလမ်း၊ နွယ်အေး ရပ်ကွက်၊ ဒေါပုံမြို့နယ်၊ ဒေါပုံ ဂုန်နီ ကော်ဖော စက်ရုံ၊ မြန်မာ့ ဂုန်လျှော် ပစ္စည်းလုပ်ငန်း၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၃။ | မြေအကျယ်အဝန်း | - ၃၉.၈၃၉ ဧက (၁၆၁,၂၂၂.၈၅၆ စတုရန်းမီတာ) |
| ၄။ | လုပ်ငန်းသက်တမ်း<br>တည်ဆောက်ရေးကာလ | - ကနဦး ၅၀ နှစ်<br>- ၁ နှစ် ၆ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | **ကျပ် ၉,၆၆၀.၉၉၂သန်း**(အမေရိကန်ဒေါ်လာ၂.၃၄၇ သန်း အပါအဝင်) |

| စဉ် | ရင်းနှီးမြှုပ်နှံမှု ပမာဏ | နိုင်ငံခြားငွေ US$(သန်း) | ကျပ်ငွေ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| ၁။ | ငွေပမာဏ | | ၁၀၃၁.၀၇၇ | ၁၀၃၁.၀၇၇ |
| ၂။ | စက်ပစ္စည်းကိရိယာများ တန်ဖိုး(ပြည်ပ) | ၁.၂၂၁ | | ၁၃၄၃.၃၆၀ |
| ၃။ | ပရိဘောဂနှင့်လုပ်ငန်း သုံးပစ္စည်းများတန်ဖိုး (ပြည်တွင်း) | | ၆၀၄၅.၃၈၇ | ၆၀၄၅.၃၈၇ |
| ၄။ | လုပ်ငန်းသုံးပစ္စည်းများ (ပြည်ပ) | ၁.၁၂၇ | | ၁၂၄၁.၁၆၈ |
| | စုစုပေါင်း | ၂.၃၄၇ | ၇,၀၇၆.၄၆၄ | ၉,၆၆၀.၉၉၂ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း | - ၅၆၃ ဦး<br>- ၅၆၃ ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၅၀,၀၀၀ ကျပ်နှင့်အမြင့်ဆုံးလစာ ၁,၂၀၀,၀၀၀ ကျပ်) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ |
| | နှစ်စဉ်ဝန်ဆောင်မှု ပုံမှန်နှစ် | စဉ် အကြောင်းအရာ ဝန်ဆောင်ခရငွေ<br>၁ Whole Sale Center ၈၆၄.၀၀ သန်း<br>၂ Logistic Center ၁၁၆၄.၄၁ သန်း<br>၃ Processing ၃၄၆၅.၁၉ သန်း |
| ၈။ | (၆ နှစ်မြောက်)ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | - ကျပ် ၅၄၉၃.၆၀ သန်း<br>- ကျပ် ၄၉၂၉.၂၉ သန်း<br>- ကျပ် ၅၆၄.၃၁ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုး<br>အမြတ်ပြန်ပေါ်နှုန်း (IRR) | <br><br>- ကျပ် ၁၈၈.၁၀၃ သန်း<br>- ကျပ် ၄၃.၂၀ သန်း<br>- ၉ နှစ်<br>- ၁၁.၇၃ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်)<br>ငွေကြေးအထောက်အထား | - (၁၆၀၀ Kw )၅၀၀ ကေဗွီအေx၅လုံး<br>- Capital Development Company Limited သည် ကမ္ဘောဇဘဏ်တွင်(၃၀-၆-၂၀၁၅) ရက်စွဲဖြင့် ငွေစာရင်းလက်ကျန် ၁,၁၄၁,၄၃၁,၉၀၂.၈၀ သန်းရှိကြောင်း ဖော်ပြထားပါသည်။ |
| ၁၁။ | အခြားတင်ပြချက် | - လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနနှင့်မြို့တော်ဖွံ့ဖြိုးတိုးတက်ရေးလီမိတက် (Capital Development Ltd.)တို့၏ရန်ကုန်တိုင်းဒေသကြီး၊ဒေါပုံမြို့နယ်၊ ဒေါပုံဂုန်နီ ကော်ဖော စက်ရုံ၊ မြန်မာ့ဂုန်လျှော်ပစ္စည်းလုပ်ငန်း၊ ၄၁းရမ်းသည့် သဘောတူစာချုပ်ကို၂၇-၁၁-၂၀၁၁ နေ့တွင် ချုပ်ဆိုခဲ့ပြီး ပြင်ဆင်ချက် သဘောတူစာချုပ်မူကြမ်းကို ပြည်ထောင်စု ရှေ့နေချုပ် သဘောထား နှင့်အတူ တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက - ၂/ မ- ၂၂၀/ ၂၀၁၅ ( ၉၅၇-၈ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Ltd.) မှ စားသောက်ကုန် များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာ ထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင် ထုတ်ပိုးခြင်း၊ ရောင်းချခြင်း၊သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Ltd.) သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနပိုင် မြေတိုင်းရပ်ကွက်အမှတ်-၂၊ မြေကွက်အမှတ်- ၂၅+၂၅E+ ၂၅F၊ ၆A၊ ၆H, ၄၃၀, ၂၅A,၂၅B,၂၅C, ၂၅D,၄၀,၄,၇ မင်းနန္ဒာလမ်း၊ နွယ်အေးရပ်ကွက်၊ ဒေါပုံမြို့နယ်၊ ဒေါပုံဂုန်နီကော်ဇောစက်ရုံ၊ မြန်မာ့ ဂုန်လျှော်ပစ္စည်းလုပ်ငန်း၊ ရန်ကုန်တိုင်းဒေသကြီးတွင် စားသောက်ကုန်များ၊ စိုက်ပျိုးရေးအခြေခံ လယ်ယာ ထွက်ကုန်သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ ရောင်းချခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားပြီး လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနနှင့် မြို့တော် ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Ltd.) တို့ချုပ်ဆိုမည့် မြေနှင့်စက်ရုံ၊ အဆောက်အအုံများ၊ စက်ကိရိယာများအား ငှားရမ်းခြင်း သဘောတူစာချုပ်မူကြမ်းကို တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၃၉.၈၃၉ဧက (၁၆၁,၂၂၂.၈၅၆ စတုရန်းမီတာ) ဖြစ်ပြီး မြေနှင့်စက်ရုံ၊ အဆောက်အအုံများ၊ စက်ကိရိယာများအား ငှားရမ်းခမှာ တစ်နှစ်လျှင် ကျပ်သန်း ၁၅၀ ဖြစ်ပါသည်။ မြေနှင့်စက်ရုံ၊ အဆောက်အအုံများ၊ စက်ကိရိယာများ ငှားရမ်းသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့်၁၀နှစ် နှစ်ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် နှစ်ကြိမ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလ ၁ နှစ် ၆လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ကျပ် ၉,၆၆၀.၉၉၂ သန်းဖြစ်ပါသည်။

| စဉ် | ရင်းနှီးမြှုပ်နှံမှု ပမာဏ | နိုင်ငံခြားငွေ US$(သန်း) | ကျပ်ငွေ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| ၁။ | ငွေပမာဏ | | ၁၀၃၁.၀၇၇ | ၁၀၃၁.၀၇၇ |
| ၂။ | စက်ပစ္စည်းကိရိယာများ တန်ဖိုး(ပြည်ပ) | ၁.၂၂၁ | | ၁၃၄၇.၁၆၀ |
| ၃။ | ပရိဘောဂနှင့်လုပ်ငန်း သုံးပစ္စည်းများတန်ဖိုး (ပြည်တွင်း) | | ၆၀၄၅.၃၈၇ | ၆၀၄၅.၃၈၇ |
| ၄။ | လုပ်ငန်းသုံးပစ္စည်းများ (ပြည်ပ) | ၁.၁၂၇ | | ၁၂၄၁.၁၆၈ |
| | **စုစုပေါင်း** | **၂.၃၄၇** | **၇,၀၇၆.၄၆၄** | **၉,၆၆၀.၉၉၂** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၅၆၃) ဦးနှင့် ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်တွင်းတွင်(၁၀၀%) ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်တွင်နှစ်စဉ်ဝန်ဆောင်မှုနှင့် ပြည်တွင်းရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အကြောင်းအရာ | ဝန်ဆောင်ခရငွေ |
|---|---|---|
| ၁။ | Whole Sale Center | ၈၆၄.၀၀ သန်း |
| ၂။ | Logistic Center | ၁၁၆၄.၄၁ သန်း |
| ၃။ | Processing | ၃၄၆၅.၁၉ သန်း |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - ကျပ် ၅၄၉၃.၆၀ သန်း

(ခ) အသုံး စရိတ် - ကျပ် ၄၉၂၉.၂၉ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၅၆၄.၃၁ သန်း

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| ဝင်ငွေခွန် (၂၅%) | ကျပ် | ၁၈၈.၁၀ | သန်း |
| ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၄၃.၂၀ | သန်း |

၁၀။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၉)နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၁.၇၃) ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင် ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက ပြည်တွင်းလုပ်သား အင်အား(၅၆၃)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ ဖော်ပြပါ မြေနေရာအား ၎င်းရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် တင်ပြထားခြင်းကြောင့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့် ပါကြောင်း သဘောထား ပြန်ကြား ထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှအဆိုပြုလုပ်ငန်း ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင် အမြတ်ငွေ၏ (၁%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်း စီမံချက်များ

အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များပါဝင်သော စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကိုထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ၊ စောင့်ကြပ်ကြည့်ရှုမည့် အစီအစဉ်များ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်း စည်းကမ်းများနှင့်အညီ လိုက်နာ ကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ သက်ဆိုင်ရာတိုင်း/ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူ လူထုများ၏ဆန္ဒနှင့် သဘောထားများရယူဆောင်ရွက်ရန် ဖြစ်ကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ခ**

၁၂။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Capital Development Company Limited သည် ကမ္ဘောဇဘဏ်တွင်(၃၀-၆-၂၀၁၅) ရက်စွဲဖြင့် ငွေစာရင်းလက်ကျန် ၁၁,၁၄၁,၄၃၁,၉၀၂.၈၀ သန်း Capital Development Company Limited ၏ MOA AOA မူကြမ်း၊ ကုမ္ပဏီ မှတ်ပုံတင် အထောက်အထားများ၊ ပုံစံ၆၊ ပုံစံ၂၆ နှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင် မိတ္တူများအား တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းသည် မီးဘေးကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက် လာမည့်အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်နှင့် စက်ရုံမှ မီးခိုးမည်း မထွက်စေရန် စီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ် များကို တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၅။ ကုမ္ပဏီမှ စက်ရုံမီးဘေးကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းလစာများ နှင့် ပတ်သက်၍ သတ်မှတ်နှုန်းထားများအတိုင်း အခွန်ပေးဆောင်မှု ကတိဝန်ခံချက်၊ ကုမ္ပဏီ၏ ခွင့်ပြုမတည် ငွေရင်းတိုးမြှင့်ခြင်းနှင့် ပတ်သက်၍ ဝန်ခံကတိပြု တင်ပြခြင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ကာကွယ်မှုအစီအစဉ်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တင်ပြထားပါသည်။

၁၆။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည)အရ အခွန်အကောက်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကိုတင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၇။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၈ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၃၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ Capital Development Company Limited. သည် မြေတိုင်းရပ်ကွက်အမှတ်-၂၊ မြေကွက်အမှတ်- ၂၅+၂၅E+၂၅F၊ ၆A၊ ၆H, ၄၃၁, ၂၅A,၂၅B,၂၅C, ၂၅D,၄၁,၄,၇ မင်းနန္ဒာလမ်း၊ နွယ်အေးရပ်ကွက်၊ ဒေါပုံမြို့နယ်၊ ဒေါပုံ ဂုန်နီ ကော်ဖော စက်ရုံ၊ မြန်မာ့ ဂုန်လျှော် ပစ္စည်းလုပ်ငန်း၊ ရန်ကုန်တိုင်းဒေသကြီးတွင် စားသောက်ကုန်များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာ ထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ ရောင်းချခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ



2 XXXX MIC update (Capital Development)

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Capital Development Company Limited. | (၁) ဒေါ်မိုးမိုး<br>မန်နေဂျင်းဒါရိုက်တာ<br>၉/မရမ(နိုင်) ၀၂၆၇၅၉ | အမှတ်(၃၄)၊တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။ |
| | | (၂) ဦးကိုကိုကြီး(ခ)ဦးစိုးနိုင်<br>ဒါရိုက်တာ<br>၁၂/ကတတ(နိုင်) ၀၁၂၂၄၃ | အမှတ်(၃၄)၊တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။ |
| | | (၃) ဦးတင်မောင်ဝင်း<br>ဒါရိုက်တာ<br>၁၂/ဗဟန(နိုင်) ၀၄၅၂၇၈ | အမှတ်(၂၂)၊ဘောဓိရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။ |
| | | (၄) ဦးတင်ရင်(ခ) မူလောစန်<br>ဒါရိုက်တာ<br>၃/မနမ(နိုင်) ၀၃၀၇၅၈ | အမှတ်(၃)၊ မင်းနန္ဒာအိမ်ယာ၊မင်းနန္ဒာလမ်း၊စက်မှုလက်မှုရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၅) ဦးစိုးတင့်<br>ဒါရိုက်တာ<br>၁/မကတ(နိုင်)၀၄၀၉၇၀ | တိုက်အမှတ်-၄၂(ဘီ)၊၈-လမ်း (အေ)၊ တက္ကသိုလ်ရိပ်သာလမ်းသစ်၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။ |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ဒေါ်အေးစန္ဒာလွင် (၀၉-၂၀၀၆၄၉၄) |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - အမှတ်(၃၄)၊တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဒေါ်မိုးမိုး(မန်နေဂျင်းဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - စားသောက်ကုန်များ၊စိုက်ပျိုးရေး အခြေခံလယ်ယာထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင် ထုတ်ပိုးခြင်း၊ရောင်းချခြင်း၊သိုလှောင်ခြင်းနှင့်ဂိုဒေါင်ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - ၅၆/၁၉၉၁-၁၉၉၂(၁၃-၅-၁၉၉၁) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - ၃၀-၆-၂၀၁၈ |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - ကမ္ဘောဇဘဏ် |

လျှို့ဝှက်



နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

တိုင်းဒေသကြီးအစိုးရအဖွဲ့ ကအမှတ် ၂/၅၂/... ရက်စွဲ ၅.၁၀.၁၅ ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၂ ) / စိုက်မွေး

ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာ လ ၄ ရက်

IC ၂ ၈ ၅/၁၀

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆. ၉. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂/ မ-၂၂၀ / ၂၀၁၅ (၇၃၁)

၁။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Ltd.) သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ ဒေါပုံမြို့နယ်၊ ဒေါပုံကော်ဖောပစ္စည်းထုတ်လုပ်ရေးစက်ရုံ အမှတ်-၂၅(အီး/အက်ဖ်)၊ ၂၅ နွယ်အေးရပ်ကွက်၊ (၃၉. ၈၃၉) ဧကကို B.O.T စနစ်ဖြင့် ငှားရမ်း၍ စားသောက်ကုန်များ၊ စိုက်ပျိုးရေးအခြေခံလယ်ယာထွက်ကုန် သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၅၆၃)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ ဒေါပုံမြို့နယ်၊ ဒေါပုံကော်ဖောပစ္စည်း ထုတ်လုပ်ရေးစက်ရုံ အမှတ်-၂၅(အီး/အက်ဖ်)၊ ၂၅ နွယ်အေးရပ်ကွက်၊ (၃၉. ၈၃၉)ဧကအား မြေငှားရမ်းခအဖြစ် တစ်နှစ်လျှင် ကျပ်သန်း(၁၅၀)နှုန်း (1 sqft =86 Kyat, 1 sqm =930 Kyat)နှုန်းဖြင့် ကနဦး(၅၀)နှစ်နှင့် သက်တမ်းတိုးနောက်ထပ်(၁၀)နှစ် (၂)ကြိမ် တိုးမြှင့်သည့်စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

D/2015/Cabinet/47_(4)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၁. ၁၀. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၇/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၇၂)အရ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Ltd.) ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒေါပုံမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Ltd.)
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/C-Mect/47 (5)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

IC, 15 16/10
DPF - 4815
15.10.15

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၇၉၈ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / မ - ၂၂၀ / ၂၀၁၅ (၇၃၂)

၁။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေးလီမိတက် ( Capital Development Ltd. ) သည် ရန်ကုန်တိုင်းဒေသကြီး ၊ ဒေါပုံကော်ဇောပစ္စည်း ထုတ်လုပ်ရေးစက်ရုံ ၊ အမှတ် / ၂၅ (အီး/အက်ဖ်) ၊ ၂၅ နွယ်အေးရပ်ကွက် ၊ လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန ၊ စက်မှုသီးနှံဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်၊ (၃၉.၈၃၉) ဧကကို B.O.T စနစ်ဖြင့် ငှားရမ်း၍ စားသောက်ကုန်များ၊ စိုက်ပျိုးရေး အခြေခံ လယ်ယာထွက်ကုန်သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်း နှင့် ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ စက်ရုံတည်ဆောက်ရာတွင် မြေသားများ ပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာမည့် အမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊ လုပ်ငန်းသုံးစက် နှင့် ယာဉ်ယန္တရားများ၏ ဆူညံသံများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း ၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ပါသည်။ အဆိုပြု လုပ်ငန်း နှင့် ပတ်သက်၍ စိစစ်ရာတွင် အသား နှင့် ဟင်းသီးဟင်းရွက်များပါဝင်သော အစားအစာများပြုလုပ်မည်ဖြစ်ခြင်းကြောင့် ထွက်ရှိမည့် စွန့်ပစ်အရည်များ ၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု ၊ မြေထု ညစ်ညမ်းခြင်း၊ထုပ်ပိုးပစ္စည်းများသည် ပလပ်စတစ်ကို အခြေခံသည့် ပစ္စည်းများဖြစ်ခြင်းကြောင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးခြင်း၊အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများအား စနစ်တကျ သိုလှောင်မှု မရှိပါက အနံ့အသက်များထွက်ရှိ၍ ပတ်ဝန်းကျင်ရှိ ပြည်သူများအား အနှောင့်အယှက်ဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Capital Development Ltd. မှ စားသောက်ကုန်များ၊ စိုက်ပျိုးရေးအခြေခံ လယ်ယာထွက်ကုန်သီးနှံများအား သန့်စင်ခြင်း၊ ပြုပြင်ထုတ်ပိုးခြင်း၊ သိုလှောင်ခြင်း နှင့် ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ တစ်ဘက်ဖော်ပြပါအချက်များ

အတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) စီမံကိန်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများလျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာအချက်အလက်များပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေး ဆိုင်ရာတာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ ( ၁ % ) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ နှင့်လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သော စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်၊လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ ၊ စောင့်ကြပ်ကြည့်ရှုမည့် အစီအစဉ်များ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ကို ရေးဆွဲတင်ပြရန် နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်း/ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန